ကန့်သတ်

ကုမ္ပဏီအမည် - Golden Myan-Tai Company Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Myan-Tai Company Limited တည်ထောင်၍ သကြားနှင့် တင်လဲရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၄-၆-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန<br>(ဂ) ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့<br>(ဃ) ကျန်းမာရေးဝန်ကြီးဌာန | <br>၉-၈-၂၀၁၆<br>၉-၈-၂၀၁၆<br>၉-၈-၂၀၁၆<br>၉-၈-၂၀၁၆ | <br>၂၉-၈-၂၀၁၆<br>၁၀-၈-၂၀၁၆<br>၁၂-၉-၂၀၁၆<br>၁-၉-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၅/၂၀၁၆) သို့ တင်ပြခြင်း | ၄-၇-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၅-၇-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၂၅/၂၀၁၆) သို့ တင်ပြခြင်း<br>(ခ) စီးပွားရာကော်မတီမှ ခွင့်ပြုပြီး ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၂၆ | | |

ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | - Golden Myan-Tai Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - သကြားနှင့် တင်လဲရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၁၊ မြေကွက်အမှတ်-၈၈၀အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ US$ ၂၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၁၄ နှစ် နှင့် ၆ လ |
| IRR | - ၇.၈၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၂၈ | - |
| ၄ | ဝင်ငွေခွန် | | ၅၂၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၃၄၅.၆၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၁၄၅.၇၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၆၈ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၂၃၀.၁၆ | ၁၀၁၉.၉၈၅ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Myan-Tai Company Limited တည်ထောင်၍ သကြားနှင့် တင်လဲရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Golden Myan-Tai Company Limited |
| | ကမကထပြုသူ | ဦးရုံးမူ |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | Mr. Yang Ming Heng |
| | | (တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၆၅% |
| | | ဦးရုံးမူ ၂၀% |
| | | U Yang Ta Sin (ခ) မောင်စိန် ၁၀% |
| | | ဒေါ်မိုးမိုးနိုင် ၅% |
| | လုပ်ငန်းအမျိုးအစား | - သကြားနှင့်တင်လဲရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၁၊ မြေကွက်အမှတ်-၈၈၀ အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေး ရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ(၁၀၈.၈၉)ဧက (၄၄၀၆၆၂.၅၈ စတုရန်း မီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ US$ ၁,၁၂၀,၀၀၀ (တစ်နှစ်တစ်စတုရန်းမီတာ US$ ၂.၅၄) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - US$ ၂၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | US $ (သန်း) |

| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း (US$) |
|---|---|---|---|
| ငွေသား | ၁.၁၇ | ၇.၀၀ | ၈.၁၇ |
| စက်ပစ္စည်း | ၁၁.၈၃ | - | ၁၁.၈၃ |
| စုစုပေါင်း | ၁၃.၀၀ | ၇.၀၀ | ၂၀.၀၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၂၇၀ ဦး |
| | ပြည်တွင်း | - ၂၆၈ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂ဦး(အနိမ့်ဆုံးလစာမှာကျပ်၁,၅၀၀,၀၀၀ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| | နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်) | (see table below) |

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု (တန်) | ရောင်းဈေး (ကျပ်/တန်) |
|---|---|---|
| White Sugar | ၁၀,၀၀၀ | ၄၈၀,၀၀၀ |
| Brown Sugar | ၁၀,၀၀၀ | ၄၈၀,၀၀၀ |
| Molasses | ၉,၀၀၀ | ၁၂၈,၀၀၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၈.၉၆ သန်း |
| | အသုံးစရိတ် | - US$ ၈.၀၁ သန်း |
| | အသားတင်အမြတ် | - US$ ၀.၉၅ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၃၂ သန်း |
| | အရင်းကြေကာလ | - ၁၄ နှစ် နှင့် ၆ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၇.၈၉% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၃,၃၈၀,၀၀၀ KWH |
| ၁၂။ | အခြားတင်ပြချက် | - မြေပိုင်ရှင် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်နှင့် Golden Myan-Tai Company Limited တို့ ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)၊ Joint-Venture Agreement (မူကြမ်း)တို့ကို တင်ပြထား ပါသည်။<br>- ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်အား တင်ပြထားပါ သည်။ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တွေ့ရှိချက် | - ငွေကြေးအထောက်အထားအဖြစ်Golden Myan-Tai Company Limited အမည်ဖြင့် Kanbawza Bank တွင်(၁၇-၅-၂၀၁၆)ရက်စွဲဖြင့် ကျပ်၂၄,၇၀၅,၀၃၃.၉၂ ရှိကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထား လာပါသည်။<br>- အဆိုပြုချက်နှင့်အတူ ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ)များနှင့် နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ)တို့အား တင်ပြထားပါသည်။<br>- Golden Myan-Tai Company Limited ၏ MOA, AOA (မူကြမ်း) များကို တင်ပြထားပါသည်။<br>- နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>- နိုင်ငံခြားမှတင်သွင်းမည့် သယ်ယူပို့ဆောင်ရေးယာဉ် စာရင်းတွင် အိမ်စီးကားများပါဝင်နေ၍ အခွန်ဆောင်၍ ပေးသွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စိုက်ပျိုးရေးသုံးပစ္စည်းများအား အခွန်ပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်းနှင့် စက်ပစ္စည်းစာရင်းအား တင်ပြ ထားပါသည်။<br>- လုပ်ငန်းလုပ်ကိုင်မည့် ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၁၊ မြေကွက်အမှတ်-၈၈၀အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ ၁၀၈.၈၈ နှင့် ပတ်သက်၍ ဦးပိုင်ရာဇဝင်မြေစာရင်းပုံစံ(၁၀၅)-(၁၀၆)နှင့် ရန်ကုန်တိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီမှ ခွင့်ပြုထားသည့် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးပြုသည့် အမိန့်စာကို ဖော်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၄၉ /၂၀၁၆ (            )
ရက်စွဲ ၊၂၀၁၆ ခုနှစ် အောက်တိုဘာလ       ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Myan-Tai Company Limited တည်ထောင်၍ သကြားနှင့် တင်လဲရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံမှ ဦးရုံးမှူ(၂၀%)၊ U Yang Ta Sin (ခ) မောင်စိန်(၁၀%)၊ ဒေါ်မိုးမိုးနိုင်(၅%) နှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr. Yang Ming Heng (၆၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Myan-Tai Company Limited တည်ထောင်၍ ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၁၊ မြေကွက်အမှတ်-၈၈၀ အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၁၀၈.၈၉)ဧကအား ငှားရမ်း၍ သကြားနှင့်တင်လဲရည် ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင် ထားပြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Golden Myan-Tai Company Limited တို့ အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို တင်ပြထားပါသည်။ မြေငှားစာချုပ်ပါ အဓိက အချက်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းခြင်းကာလမှာ ၃၀နှစ်ဖြစ်ပြီးတစ်ကြိမ်လျှင် ၁၀နှစ်သက်တမ်းဖြင့် သက်တမ်း ၂ကြိမ် သက်တမ်းတိုးခွင့်ပြုရန် သတ်မှတ်ထားပြီး ၅နှစ်တစ်ကြိမ် စာချုပ် ချုပ်ဆိုသွားမည် ဖြစ်ပါသည်။

(ခ) ဥက္ကံသကြားစက်ရုံ ငှားရမ်းလည်ပတ်မှုအတွက် ငှားရမ်းခ တစ်နှစ်လျှင် အမေရိကန် ဒေါ်လာ ၁,၁၂၀,၀၀၀(အမေရိကန်ဒေါ်လာ တစ်သန်း၊ တစ်သိန်းနှစ်သောင်းတိတိ)ဖြစ် ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ (၁၀၈.၈၉)ဧက (၄၄၀၆၆၂.၅၈ စတုရန်းမီတာ)ဖြစ်ပြီး မြေ ငှားရမ်းခမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၂.၅၄ ဖြစ်ပါသည်။ မြေငှားရမ်းသက်တမ်းမှာ ကနဦး၃၀ နှစ် နှင့်၁၀နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃နှစ် ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂၀.၀၀သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်- **US $ (သန်း)**

| **စဉ်** | | **ပြည်ပ** | **ပြည်တွင်း** | **စုစုပေါင်း** |
|---|---|---|---|---|
| (က) | ငွေသား | ၁.၁၇ | ၇.၀၀ | ၈.၁၇ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၁.၈၃ | - | ၁၁.၈၃ |
| | **စုစုပေါင်း** | **၁၃.၀၀** | **၇.၀၀** | **၂၀.၀၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၂၆၈)ဦး နှင့် ပြည်ပ (၂) ဦး စုစုပေါင်း (၂၇၀)ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ်၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှုဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု (တန်) | ရောင်းဈေး (ကျပ်/Ton) |
|---|---|---|---|
| (က) | White Sugar | ၁၀,၀၀၀ | ၄၈၀,၀၀၀ |
| (ခ) | Brown Sugar | ၁၀,၀၀၀ | ၄၈၀,၀၀၀ |
| (ဂ) | Molasses | ၉,၀၀၀ | ၁၂၀,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ တဖက်ပါ အတိုင်း ဖြစ်ပါသည်-

**US $ (သန်း)**

(က) ဝင်ငွေ - ၈.၉၆ သန်း

(ခ) အသုံးစရိတ် - ၈.၀၁ သန်း

(ဂ) အသားတင်အမြတ် - ၀.၉၅ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန် ဒေါ်လာ ၀.၃၂သန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၁၄ နှစ် ၆လ ဖြစ်ပြီး အရင်း အနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) မှာ ၇.၈၉% ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန် အဆိုပြုလွှာတွင် ဖော်ပြထားသည့်အတိုင်း National Engineering & Planning Services (NEPS Co.,Ltd)နှင့် ဆောင်ရွက်နေသော သဘာဝပတ်ဝန်းကျင်နှင့် လူမှုဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental and Social Impact Assessment- ESIA) အား ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ ဆောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)

အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီအစီရင်ခံစာ ရေးသားတင်ပြရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက် များနှင့်အညီလိုက်နာ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

**(ကုမ္ပဏီမှ သဘာဝပတ်ဝန်းကျင်နှင့်လူမှုဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီအစဉ် (ESIA) အား National Engineering & Planning Services (NEPS Co.,Ltd) နှင့် ပူးပေါင်းဆောင်ရွက်လျက်ရှိပါကြောင်းတင်ပြထားပါသည်။) (နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာ ဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၂% သုံးစွဲရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ သကြားထုတ်လုပ်ရာ၌ Sulphatization Processကို အသုံးပြုထား၍ ကုန်ချောသကြားတွင် သတ်မှတ်ချက်ထက်ပို၍ Sulphur Residue ကြွင်းကျန်မှုမရှိစေရေး ဂရုပြုဆောင်ရွက်ရန်နှင့် နောင်တွင် နည်းပညာမြင့်သော စက်များကို သုံးစွဲရန်၊ သကြားထုတ်လုပ်မှုအတွက် တင်သွင်းမည့် စက်ပစ္စည်းများစာရင်းတွင် လူစီးယာဉ် (Van) များနှင့် လုပ်ငန်းသုံးယာဉ်များ၊ Office Equipment များ၊ Mild Steel Pipe များနှင့် Generator များ ပါဝင်နေခြင်းအား စိစစ်ရန်၊ ထုတ်လုပ်မှုစက်ပစ္စည်းစာရင်းတွင် Concrete Mixer (1)Set ပါဝင်နေခြင်းအား စိစစ်ရန်၊ တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများစာရင်းတွင် Boiler Fuel (Coal, Fuel Oil, Diesel Fuel & Oil, Lubricating Oil) နှင့် Fertilizer များပါဝင်နေသဖြင့် ပြန်လည်စိစစ်ရန်၊ Coalကို ပြည်ပမှတင်သွင်းခြင်းနှင့် ကျောက်မီးသွေးသုံးဘွိုင်လာများ အသုံးပြုမှုကို သုံးသပ် ဆောင်ရွက်ရန်၊ Fuel Oil (FO) လောင်စာအသုံးပြုမှု လွန်စွာများပြားနေ၍ နိုင်ငံခြားမှ မှာယူမည်ဖြစ်သဖြင့် ပြန်လည်သုံးသပ်ရန်နှင့် နောင်တွင် Energy Saving ဖြစ်စေရေး နည်းလမ်းများကို ထည့်သွင်း ရေးဆွဲရန်၊ အခြားစက်ပစ္စည်းများစာရင်း သင့်လျော်မှု ရှိသော်လည်း Other Part for Sugar Manufacturing Equipment ဟုထည့်သွင်းထားရာ တင်သွင်းလိုသည့် စက်ပစ္စည်းအမျိုးအမည်အား ဖော်ပြပေးရန်၊ စိုက်ပျိုးရေးသုံး စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့်

ထုတ်လုပ်မှုနှင့် စိုက်ပျိုးရေး လုပ်ငန်းသုံး ဓာတုဗေဒပစ္စည်းများအား ပြည်ပမှ တင်သွင်းမည် ဖြစ်၍ ပြည်တွင်းမှ ဝယ်ယူနိုင်မည့် ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူရေး ပြန်လည်သုံးသပ်ရန်၊ ကြံလိုအပ်ချက်မှာ ပထမနှစ်တွင် တန်ချိန် (၅၄၀၀၀)မှ နောင်(၁၀)နှစ်တွင် တန်ချိန် (၂၁၀၀၀၀)ထိ လိုအပ်ကြောင်းတင်ပြထားရာ ကြံလိုအပ်ချက် ပြည့်မီရန် ဒေသဖွံ့ဖြိုးရေးနှင့် ဒေသတွင်းတောင်သူများအတွက် နည်းပညာများ၊ မျိုးစေ့များ ထောက်ပံ့ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **[စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါ ကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။]** **(နောက်ဆက်တွဲ - ဂ)**

(ဃ) **ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၁၂။ ငွေကြေးအထောက်အထားအဖြစ် Golden Myan-Tai Company Limited အမည်ဖြင့် Kanbawza Bankတွင် (၁၇-၅-၂၀၁၆) ရက်စွဲဖြင့်ကျပ် ၂၄,၇၀၅,၀၃၃.၉၂ ရှိကြောင်းတင်ပြထားပါသည်။ Golden Myan-Tai Company Limited ၏ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများ၊ နိုင်ငံသားမှတ်ပုံတင်မိတ္တူများကို တင်ပြထားပါသည်။

၁၃။ Golden Myan-Tai Company Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေးဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက်ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Golden Myan-Tai Company Limited | U Yone Mu<br>Director<br>Myanmar<br>1/Ma Nya Na (Naing) 074683 | No.814, 63rd Street, Corner of 30th Street, Pyi Gyi Myat Shin Ward, Chan Aye Tharzan Township, Mandalay |
| | | Mr. Yang Min Heng<br>Director<br>Chinese<br>PPNo.302343266 | 4th Floor, No.8, Aly-57, Ln-236, Sec 5, Zhongxiao E Road, Xinyi Distinct, Taipei City 11060, Taiwan (ROC) |
| | | U Yaung Ta Sin @ Maung Sein<br>Director<br>Myanmar<br>1/ Ma Ka Na (Ei) 000747 | No.19, Parami Road, Ward No.(7), Mayangone Township, Yangon |
| | | Daw Moe Moe Naing<br>Director<br>Myanmar<br>1/ Ma Ya Ma (Naing) 092029 | No.631, 5(E) 3, Pyay Road, Ward No.(2), Kamaryut Township, Yangon |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၂၂၆၂၆

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်- ၈၁၄၊ ၆၃-လမ်း၊ လမ်း(၃၀)ထောင့်၊ ပြည်ကြီးမျက်ရှင်ရပ်ကွက်၊ ချမ်းအေးသာစံ မြို့နယ်၊ မန္တလေး

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးရုံးမူ
ဒါရိုက်တာ

| | | |
|---|---|---|
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | - |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

MIC, 300

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ် ...............
ရက်စွဲ ...............
ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာ လ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉. ၈. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၄၉/၂၀၁၆(၅၉၃)

၁။ မြန်မာနိုင်ငံမှ ဦးရုံးမူ(၂၀%)၊ U Yang Ta Sin (ခ) မောင်စိန်(၁၀%)၊ ဒေါ်မိုးမိုးနိုင်(၅%)နှင့် တရုတ်နိုင်ငံမှ Mr. Yang Ming Heng (၆၅%)အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Myan-Tai Company Limited တည်ထောင်၍ ဦးပိုင်အမှတ်-၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၈၁၊ အမှတ်-၈၈၀ အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ(၁၀၈. ၈၉)ဧကအား ငှားရမ်း၍ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(မြင့်သောင်း၊ တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တိုက်ကြီးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Golden Myan-Tai Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

MIC, 256
11/18

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၂၀၈/၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဩဂုတ်လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Golden Myan-Tai Company Limited မှ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၄၉/ ၂၀၁၆(၅၈၉)

၁။ မြန်မာနိုင်ငံမှ ဦးရုံးမူ (၂၀%)၊ U Yang Ta Sin (ခ) မောင်စိန် (၁၀%)၊ ဒေါ်မိုးမိုးနိုင် (၅%) နှင့် တရုတ်နိုင်ငံမှ Mr. Yang Ming Heng (၆၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင်Golden Myan-Tai Company Limited တည်ထောင်၍ ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၈၁၊ အမှတ်-၈၈၀ အီး၊ တောကွင်း၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၁၀၈.၈၉)ဧက အား ငှားရမ်း၍ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ် (၃၀) နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ (၃)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးလုံခြုံရေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ သဘာဝပတ်ဝန်းကျင်နှင့် လူမှုဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) အား National Engineering & Planning Services (NEPS Co., Ltd.)နှင့် ဆောင်ရွက်လျက် ရှိကြောင်း ဖော်ပြပါရှိပါသည်။

၃။ Golden Myan - Tai Company Limited မှ သကြားနှင့်တင်လဲရည် ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း၊ စက်ရုံ မီးခိုးခေါင်းတိုင်းမှ ထွက်ရှိလာမည့် ဓါတ်ငွေ့များ၊ ပြာမှုန့်များကြောင့် ပတ်ဝန်းကျင် လေထု ညစ်ညမ်းခြင်း၊ စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုပါက ပါဝင်သော ဓါတုဗေဒဒြပ်ပေါင်းများသည် ရေထဲမှ အောက်စီဂျင်အား ဖျက်ဆီးစေပြီး ရေနေ သတ္တဝါနှင့်အပင်များ၏ ဂေဟာစနစ်ကို ပျက်စီးစေခြင်း၊ သကြားထုတ်လုပ်ရန်အတွက် ကြံခင်း များတိုးချဲ့စိုက်ပျိုးရာတွင် ဓါတုမြေသြဇာနှင့်ပိုးသတ်ဆေးများ အလွန်အကျွံသုံးစွဲပါက မြေဆီ လွှာ၏အရည်အသွေးကိုယိုးယွင်းပျက်စီးစေခြင်း၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Golden Myan - Tai Company Limited မှ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြု လွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မ

ဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အဆိုပြုလွှာတွင် ဖော်ပြထားသည့်အတိုင်း National Engineering & Planning Services (NEPS Co., Ltd.) နှင့် ဆောင်ရွက်နေသော သဘာဝပတ်ဝန်းကျင်နှင့် လူမှုဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) အား ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ- ဂ

MIC 282
1/9

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆-၂၀၁၇(၁၃၆၃)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၈.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၄၉ / ၂၀၁၆ (၅၉၅)

၁။ Golden Myan-Tai Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တောကွင်း၊ အမှတ်(၈၈၀ အီး)၊ ဦးပိုင်အမှတ်(၂၉+၄၇/က+၂၆ အင်န်-၃ မှ အင်န်-၈၈၁) တွင် သကြားနှင့်တင်လဲရည် ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထား မှတ်ချက် ပြန်ကြားပေးပါရန်ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင် လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၂ % သုံးစွဲရန် လိုအပ်ပါ သည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် လိုအပ်ပါသည်။

(င) သကြားထုတ်လုပ်ရာ၌ Sulphatization Process ကိုအသုံးပြုထား၍ ကုန်ချောသကြားတွင် သတ်မှတ်ချက်ထက်ပို၍ Sulphur Residue ကြွင်းကျန်မှု မရှိစေရေး ဂရုပြုဆောင်ရွက်ရန်နှင့် နောင်တွင် နည်းပညာမြင့်သော စက်များကို သုံးစွဲရန် လိုအပ်ပါသည်။

(စ) သကြားထုတ်လုပ်မှုအတွက် တင်သွင်းမည့် စက်ပစ္စည်းများစာရင်းတွင် လူစီးယာဉ်(Van)များနှင့် လုပ်ငန်းသုံးယာဉ်များ၊ Office Equipment များ၊ Mild Steel Pipe များနှင့် Generator များ ပါဝင်နေပါသည်။

(ဆ) ထုတ်လုပ်မှုစက်ပစ္စည်းစာရင်းတွင် Concrete Mixer (1)Set ပါဝင်နေပါသည်။

(ဇ) တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများစာရင်းတွင် Boiler Fuel (Coal, Fuel Oil, Diesel Fuel & Oil , Lubricating Oil) နှင့် Fertilizer များ ပါဝင်နေသဖြင့် ပြန်လည်စဉ်းစားရန် လိုအပ်ပါသည်။

(ဈ) Coal ကို ပြည်ပမှတင်သွင်းခြင်းနှင့် ကျောက်မီးသွေးသုံးဘွိုင်လာများ အသုံးပြုမှုကို ခွင့်ပြုပေးရန် သင့်/မသင့် သုံးသပ်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ည) Fuel Oil (FO) လောင်စာအသုံးပြုမှု လွန်စွာများပြားနေ၍ နိုင်ငံခြားမှ မှာယူမည်ဖြစ်သဖြင့် ပြန်လည်သုံးသပ်ရန်နှင့် နောင်တွင် Energy Saving ဖြစ်စေရေးနည်းလမ်းများကို ထည့်သွင်းရေးဆွဲရန် လိုအပ်ပါသည်။

(ဋ) အခြားစက်ပစ္စည်းများစာရင်း သင့်လျော်မှုရှိသော်လည်း Other Part for Sugar Manufacturing Equipment ဟု ထည့်သွင်းထားရာ တင်သွင်းလိုသည့် စက်ပစ္စည်းအမျိုးအမည်အား ဖော်ပြပေးရန် လိုအပ်ပါသည်။

(ဌ) စိုက်ပျိုးရေးသုံးစက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် ထုတ်လုပ်မှုနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံး ဓာတုဗေဒပစ္စည်းများအား ပြည်ပမှတင်သွင်းမည်ဖြစ်၍ ပြည်တွင်းမှ ဝယ်ယူနိုင်မည့်ပစ္စည်းများကို ပြည်တွင်းမှဝယ်ယူရေး ပြန်လည်သုံးသပ်ရန် လိုအပ်ပါသည်။

(ဍ) ကြံလိုအပ်ချက်မှာ ပထမနှစ်တွင် တန်ချိန် (၅၄၀၀၀)မှ နောင် (၁၀)နှစ်တွင် တန်ချိန်(၂၁၀၀၀၀)ထိ လိုအပ်ကြောင်းတင်ပြထားရာ ကြံလိုအပ်ချက် ပြည့်မီ

ရန် ဒေသဖွံ့ဖြိုးရေးနှင့် ဒေသတွင်းတောင်သူများအတွက် နည်းပညာများ၊ မျိုးစေ့များ ထောက်ပံ့ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) သကြားထုတ်လုပ်မှုအတွက် သုံးစွဲမည့်အဓိကကုန်ကြမ်းများမှာ ကုန်ချောထွက်ရှိမှုနှင့် ကိုက်ညီမှု ရှိပါသည်။

၃။ သို့ပါ၍ Golden Myan-Tai Company Limited မှ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

နောက်ဆက်တွဲ-ဃ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၂မခ(က)၂၀၁၆/ ၈၁၂၂

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ စက်တင်ဘာလ( ၁ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စအား ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၈-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/န-၁၄၉/၂၀၁၆(၅၉၄)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံမှ ဦးရုံးမှူ (၂၀%)၊ U Yang Ta Sin (ခ) မောင်စိန်(၁၀%)၊ ဒေါ်မိုးမိုးနိုင်(၅%)နှင့် တရုတ်နိုင်ငံမှ Mr. Yang Ming Heng (၆၅%) အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Myan- Tai Company Limited တည်ထောင်၍ ဦးပိုင်အမှတ် ၂၉+၄၇/က+၂၆ အင်န်-၃မှ ဂုံညင်းတန်းကျေးရွာအုပ်စု၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၁၀၈.၈၉)ဧကအား ငှားရမ်း၍ သကြားနှင့်တင်လဲရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်နှင့် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနအနေဖြင့် စိစစ်ချက်အရ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)